၁၉၆၈၈
ပုံစံ (မနသ-၂)
၂-၁၁-၂၀၀၉

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၀၆...... / ၂၀၀၉ ။ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...... ဦးဖိုးဇော် (ခ) ဦးဇော်ဇော်

(ခ) အဘအမည် ...... ဦးယုစိန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ...... ၁၂ /ဗဟန (နိုင်) ၀၈၄၅၄၄

(ဃ) နေရပ်လိပ်စာ ...... အမှတ် (၁၉)၊ကုက္ကိုင်းရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...... မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...... BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...... ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ထောက်ကြံ့-ပဲခူး လမ်းအပိုင်း (၃၂ မိုင်၊ ၆ ဖာလုံ)။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ...... ၁၁၃၁၈.၅၁ (သန်း) (အမေရိကန်ဒေါ်လာ ၆.၂၅ သန်းအပါအဝင် စုစုပေါင်း ကျပ်သန်း တစ်သောင်း၊တစ်ထောင်၊ သုံးရာ၊တစ်ဆယ့်ရှစ် နှင့် ငါးသိန်း၊တစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၃ /၂၀၀၉ (မနသ)

နေပြည်တော်၊ ၁၃၇၁ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁ ရက်

(၂၀၀၉ ခုနှစ်၊ နိုဝင်ဘာလ ၂ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ထောက်ကြံ့-ပဲခူး လမ်းအပိုင်း (ထောက်ကြံ့- ဇရပ်ကွင်း အပိုင်း မိုင်တိုင် ၁/၀ မှ ၁၄/၆ အထိ ၁၃ မိုင်၊ ၆ ဖာလုံ နှင့် ဇရပ်ကွင်း-ပဲခူး အပိုင်း မိုင်တိုင် ၃၁/၀ မှ ၅၀/၀ အထိ ၁၉ မိုင်၊ စုစုပေါင်း ၃၂ မိုင်၊ ၆ ဖာလုံ) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၁၇-၇-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၂၅/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၃-၉-၂၀၀၉ ) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၂/၂၀၀၉) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၂၁-၁၀-၂၀၀၉) နေ့တွင် ကျင်းပ သော ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့၏ ( ၄၀ /၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့် များကို ကျင့်သုံးလျက် မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)အား ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ထောက်ကြံ့-ပဲခူး လမ်းအပိုင်း (၃၂ မိုင်၊ ၆ ဖာလုံ) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၀၆/၂၀၀၉ ကို ထုတ်ပေးလိုက်သည်။

၂။ မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင် သို့ လျှောက်ထားနိုင်သည်။

၃။ မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်း ချက်ကို အနိမ့်ဆုံး ရည်မှန်းချက် အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် ထောက်ကြံ့-ပဲခူး လမ်းအပိုင်းအား BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ်စာချုပ်ပါသတ်မှတ်ချက် စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက် ရ မည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)တို့ ချုပ်ဆိုမည့် ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ ထောက်ကြံ့-ပဲခူး လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)၏ ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ ထောက်ကြံ့-ပဲခူး လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းသက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်၊ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင်သတ်မှတ်ရမည် ။

၈။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

(က) ပထမ (၃)နှစ် အတွက် - ကင်းလွတ်ခွင့်ကာလ

(ခ) (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် - ၅% ပေးသွင်းရန်

(ဂ) (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၀% ပေးသွင်းရန်

(ဃ) (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၅% ပေးသွင်းရန်

(င) (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် - ၂၀% ပေးသွင်းရန်

၉။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတားများ၊ ဂိတ်များ နှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၀။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ်(ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်း လိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကိုပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ မက်စ် (မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ ဓပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(c) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(ပိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကာ- ၆(က) /မ- ၁၀၀၀ / ၂၀၀၉(၁၉၆၀၀)

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၂ ရက်။

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၊ ရန်ကုန်မြို့။

၅။ ပဲခူးတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊ တောင်ငူမြို့။
၆။ စာရင်းစစ်ချုပ်ရုံး။
၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၈။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၂။ ဆောက်လုပ်ရေးဝန်ကြီးဌာန။
၁၃။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၄။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၅။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၆။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Max (Myanmar) Construction Co., Ltd.)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၉(ကုမ္ပဏီ)(စီ ၄၀၉၆)
ရက် စွဲ၊ ၂၀၁၉ခုနှစ် ဇွန်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီးတွင် မက်စ်မြန်မာဆောက်လုပ်ရေး ကုမ္ပဏီမှ ဆောင်ရွက်နေသော လမ်းပိုင်းအား B.O.T စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာတင်ပြခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၉ခုနှစ် ဧပြီလ (၂)ရက် နေ့စွဲပါ စာအမှတ်၊ရက-၁/မ-၇၀၆/၂၀၁၉(၃၈၄၂)

(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀၁၉ခုနှစ် မေလ (၂၇)ရက် နေ့စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၉ (ကုမ္ပဏီ) (စီ ၃၃၃၅)

၁။ ရန်ကုန် - မန္တလေးပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်း(၈)ပိုင်းအား B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီ(၇)ခု၏ အဆိုပြုလွှာများနှင့် ငွေကြေးလည်ပတ်မှု အခြေအနေအား တင်ပြခဲ့ခြင်းအပေါ် လိုအပ်ချက်များ ပြင်ဆင်ဖြည့်စွက်ပြီး ပြန်လည်တင်ပြပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၉) မှ ဆုံးဖြတ်ချက်အား ရည်ညွှန်းချက် (၁)ပါစာနှင့်အတူ ပူးတွဲပေးပို့အကြောင်းကြားလာပါသည် ။

၂။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ လိုအပ်သည်များ ပြင်ဆင်ရန် အဆိုပြုလွှာနှင့် ပဋိညာဉ်စာချုပ်ပါ အချက်များအား လမ်းပိုင်းအလိုက် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများအနက် ထောက်ကြန့် - ပဲခူး လမ်းပိုင်းအား လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်နေသော မက်စ်မြန်မာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်းပြုစုပြီး ပြင်ဆင်ဖြည့်စွက်ပေးပို့လာပါသည် ။

၃။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏လမ်းညွှန်ချက်နှင့်အညီပြုစုထားသော အဆိုပါ လမ်းပိုင်း၏ အဆိုပြုလွှာအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီး ဖြစ်ပါ၍ ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက် ရယူပေးနိုင်ပါရန် ပြင်ဆင်ဖြည့်စွက်ထားသော မက်စ်မြန်မာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာ(၂)စုံ ၊ ငွေကြေးလည်ပတ်မှုအခြေပြဇယား(၁)စောင်တို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအစီရင်ခံအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးချုပ်မြင့်သိန်း၊ ဒုတိယဝန်ကြီး)

D/DM P.g 198 (၂)

**(၃၀-၁-၂၀၀၉) နေ့ B.O.T အစည်းအဝေး ကျင်းပပြီးနောက် ရန်ကုန်-မန္တလေးပြည်ထောင်စုလမ်းမကြီးတွင် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိသေ ကုမ္ပဏီများမှ တင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား**

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေ ကာလ(နှစ်) | (၁)ရက်လျှင် သွားသည့် ယာဉ်စီးရေ | (၁)နှစ် ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | ထောက်ကြန့်-ပဲခူးလမ်းပိုင်း | မက်စ်မြန်မာ | ၂ | (၂၆)နှစ်(၇)လ | ၅၀၀၀ | ၁ | ၁၁၃၁၈.၅၁၀ |

ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၇၀၆......./၂၀၀၉။ ၂၀၀၉ ပြည့်နှစ်၊ ဒီဇင်ဘာ လ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ....ဦးဖိုးဇော် (ခ) ဦးဇော်ဇော်....

(ခ) အဘအမည် ....ဦးမှူးဒိန်....

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ....၁၂/မဟန(နိုင်)၀၈၄၅၄၄....

(ဃ) နေရပ်လိပ်စာ ....အမှတ်(၁၉၁)၊ ကျွန်းတိုက်သာလမ်း၊ မဟန်မြို့နယ်၊ ရန်ကုန်မြို့။....

........................................................................

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ....မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

....(Max (Myanmar) Construction Co., Ltd.)....

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ~~ရန်ကုန်-မန္တလေးမြန်နှုန်းမြင့်အဝေးပြေးလမ်းမကြီးမှ ထောက်ကြံ့-ပဲခူးလမ်းဆုံ (၃၂ မိုင်၊ ၆ ဖာလုံ) အား~~ BOT စနစ်ဖြင့် လမ်းဆက်

ဖောက်လုပ်၍ လမ်းကောက်ခံခြင်း ပြုလုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ....ရန်ကုန်-မန္တလေးမြန်နှုန်းမြင့်အဝေးပြေးလမ်းမကြီးမှ

ထောက်ကြံ့-ပဲခူးလမ်းဆုံ (၃၂ မိုင်၊ ၆ ဖာလုံ)

........................................................................

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ....၁၁၃၁၈.၅၁၁ သန်း (အမေရိကန်ဒေါ်လာ ၃၄.၂၅ သန်း ပါဝင်

ခုခုပေါင်း ကျပ်သန်း ... တစ်သောင်းတစ်ထောင့်သုံးရာ ...

... ငါးသိန်း ... )

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

| | | |
|---|---|---|
| ၁၃။ | ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ထောက်ကြံ့-ပဲခူး (မက်စ်မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီ)၊ ပဲခူး-ညောင်လေးပင် (ရွှေသံလွင် အဝေးပြေး လမ်းမကြီး ကုမ္ပဏီ)နှင့် မိတ္ထီလာ-မန္တလေး (သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ)လမ်းအပိုင်း (၃)ခုတွင် BOT စနစ်ဖြင့် ဆောင်ရွက်ပြီး လမ်းအသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်း အဆိုပြုလွှာ ပြန်လည် တင်ပြလာခြင်း ကိစ္စ။<br>ဆုံးဖြတ်ချက်<br>ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ အောက်ပါ လမ်းအပိုင်း(၃)ခုတွင် BOT စနစ်ဖြင့် လမ်းအသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုလွှာများ ကို အချက်အလက်များ ပြည့်စုံစွာဖြင့် ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြရန် ဆုံးဖြတ်ပါသည်။<br>(၁)ထောက်ကြံ့-ပဲခူး လမ်းအပိုင်း<br>(မက်စ်မြန်မာဆောက်လုပ်ရေးကုမ္ပဏီလီမိတက် )<br>(၂) ပဲခူး - ညောင်လေးပင် လမ်းအပိုင်း<br>(ရွှေသံလွင်အဝေးပြေးလမ်းမကြီးကုမ္ပဏီလီမိတက်)<br>(၃)မိတ္ထီလာ- မန္တလေး လမ်းအပိုင်း<br>(သော်တာဝင်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>ဆောက်လုပ်ရေး ဝန်ကြီးဌာန |

(ခ) ပဲခူး - ညောင်လေးပင်လမ်းအပိုင်း
(ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီလီမိတက်)

(ဂ) မိတ္ထီလာ - မန္တလေး လမ်းအပိုင်း
(သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

၃။ အဆိုပြုလွှာများတွင် အစည်းအဝေး ဆုံးဖြတ်ချက်အရ အောက်ပါအတိုင်း တွက်ချက်တင်ပြထားပါသည် -

(က) လမ်းတံတားအသုံးပြုခ ကောက်ခံနှုန်းများကို တိုးမြှင့်တင်ပြလာပါသည်။ (ဥပမာ- ၁- တန်အောက် ယာဉ်ငယ်များအတွက် တစ်မိုင်လျှင် (၂ိ - ဝ၈ါး) မှ (၄ိ - ၁၃ါး) ဖြင့် တိုးမြှင့်တွက်ချက်ထားပါသည်)

(ခ) လုပ်ငန်းသက်တမ်း ကာလမှာ တည်ဆောက်ရေး ကာလ (၃)နှစ်ပြီးနောက် နှစ် (၄၀)ဖြစ်ကြောင်း စာချုပ်တွင် ထည့်သွင်း ချုပ်ဆိုထားပါသည်။ လုပ်ငန်း အဆိုပြုချက်၏ ဝင်ငွေကို တည်ဆောက်ရေးကာလ (၃)နှစ် နှင့် BOT သက်တမ်းကာလ နှစ်(၄၀)ဖြင့် စုစုပေါင်း (၄၃) နှစ် အတွက် တွက်ချက်တင်ပြထားပါသည်။

(ဂ) ပြည်တွင်းချေးငွေရယူခြင်းများအတွက် အတိုးနှုန်းကို တစ်နှစ်လျှင် (၁၇%)အတိုးဖြင့် တစ်ပြေးညီ တွက်ချက်တင်ပြထားပါသည်။

(ဃ) တည်ဆောက်ရေးကာလမှာ ထောက်ကြံ့-ပဲခူး လမ်းအပိုင်းအတွက် (၁-၄-၂၀၀၈) နေ့မှ စ၍ (၃)နှစ် ၊ ပဲခူး - ညောင်လေးပင်လမ်းအပိုင်း နှင့် မိတ္ထီလာ - မန္တလေး လမ်းအပိုင်းတို့ အတွက် (၁-၁၀-၂၀၀၂) နေ့မှ စ၍ (၃)နှစ် ဖြစ်ပါသည်။

၄။ လမ်းအသုံးပြုခ ကောက်ခံရငွေအပေါ် ကုမ္ပဏီများမှ နိုင်ငံတော်သို့ အောက်ပါအတိုင်း ပေးသွင်းကြမည် ဖြစ်ပါသည်။

| | |
|---|---|
| (က)ပထမ (၃)နှစ်အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (ခ) ၄ နှစ်မှ ၁၃ နှစ်အထိ (၁၀)နှစ် | - ၅ % ပေးသွင်းရန် |
| (ဂ) ၁၄နှစ်မှ ၂၃ နှစ်အထိ (၁၀)နှစ် | - ၁၀ % ပေးသွင်းရန် |
| (ဃ) ၂၄ နှစ်မှ ၃၃ နှစ်အထိ (၁၀)နှစ် | - ၁၅ % ပေးသွင်းရန် |
| (င) ၃၄ နှစ်မှ ၄၀ နှစ်အထိ (၇)နှစ် | - ၂၀ % ပေးသွင်းရန် |

၅။ စိစစ်တင်ပြချက်

(က) လမ်းအသုံးပြုခ ကောက်ခံနှုန်းများကို အောက်ပါအတိုင်း တိုးမြှင့် တင်ပြလာပါသည်-

(တစ်မိုင်နှုန်း)

| စဉ် | အကြောင်းအရာ | ဌာနမှ ယခင် တင်ပြခဲ့သည့်နှုန်း | ယခု ပြင်ဆင် တင်ပြချက် |
|---|---|---|---|
| ၁။ | (၁)တန်အောက် ယာဉ်ငယ်များ | ၂°- ၀၈ါး | ၄°- ၁၃ါး |
| ၂။ | (၁)တန်မှ (၃)တန်အထိ ယာဉ်များ | ၆°- ၂၅ါး | ၁၂°- ၃၉ါး |
| ၃။ | (၅)တန်အောက် ကားကြီးများ | ၁၀°- ၄၂ါး | ၂၀°- ၆၅ါး |
| ၄။ | (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီးများ | ၂၀°- ၈၃ါး | ၄၁°- ၃၀ါး |
| ၅။ | (၂၀)တန်အထိ ကုန်တင်ယာဉ်ကြီးများ | ၄၁° - ၆၇ါး | ၈၂°- ၅၉ါး |
| ၆။ | (၂၀)တန်အထက် တန်ပို | တစ်တန်လျှင် ၂၀၀ိ/- | တစ်မိုင်လျှင် ၈ိ - ၂၆ါး |

(ခ) ပဲခူး-ညောင်လေးပင် လမ်းအပိုင်း (ရွှေသံလွင် အဝေးပြေး လမ်းမကြီး ကုမ္ပဏီ)နှင့် မိတ္ထီလာ-မန္တလေးလမ်းအပိုင်း (သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ) ၏ တည်ဆောက်ရေးကာလ (၃)နှစ် သည် (၁-၁၀-၂၀၀၂) နေ့မှ (၃၀-၉-၂၀၀၅) နေ့အထိ ဖြစ်ပါသည်။ တည်ဆောက်ရေး ကာလအတွင်း လမ်းအသုံးပြုခ ကောက်ခံငွေ ရရှိပါသည်။တည်ဆောက်ရေးကာလ(၃)နှစ်အပြီး (၁-၁၀-၂၀၀၅)နေ့ကိုစီးပွားဖြစ်စတင်သည့်နေ့အဖြစ် သတ်မှတ်ပါက ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၁၂)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလသည်(၁-၁၀-၂၀၀၅)နေ့မှ (၃၀-၉-၂၀၀၈)နေ့ အထိ ဖြစ်ပါသည်။

(ဂ) ထောက်ကြံ့-ပဲခူး လမ်းအပိုင်း(မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီ)၏ တည်ဆောက်ရေး ကာလ (၃)နှစ်မှာ (၁-၄-၂၀၀၈) နေ့မှ (၃၁-၃-၂၀၁၁) နေ့အထိ ဖြစ်ပါသည်။

(ဃ) မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၏ ထောက်ကြံ့ - ပဲခူး လမ်းအပိုင်းအတွက် စက်၊ ယာဉ်၊ ယန္တရားများ တန်ဖိုး စုစုပေါင်း US$ (၂၀.၃၁၅) သိန်းဖိုးအား ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ ထောက်ခံချက်အရ ကော်မရှင်၏ (၁/၂၀၀၉) (၁၄-၁-၂၀၀၉) နှင့် (၁၄/၂၀၀၉) (၂၉-၄--၂၀၀၉) အစည်းအဝေးများမှ ကြိုသွင်းခွင့်ပြုခဲ့ပါသည်။

(င) လုပ်ငန်းသဘောတူ ပဋိညာဉ်စာချုပ်များ (မူကြမ်း)၏ အပိုဒ်- ၉ (ဂ)(၁) တွင် လုပ်ငန်းကာလ ဆိုသည်မှာ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများကို လုပ်ကိုင်ခွင့်ပြုကြောင်း အကြောင်းကြား သည့်နေ့မှစ၍(၃)နှစ်နှင့် တံတားများ တည်ဆောက်ချိန်

ကို(၅)နှစ်ဟု သတ်မှတ်ပေးထားကြောင်း ဖော်ပြထားပါသည်။ အဆိုပါကာလသည် တည်ဆောက်ရေး ကာလ ဖြစ်ပါသည်။

(စ) လမ်းလုပ်ငန်းအပိုင်းအလိုက် အဆိုပြုလွှာများအရ ကုမ္ပဏီ(၃)ခု၏ ရင်းနှီးမြှုပ်နှံမှု၊ အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) နှင့် အရင်းကြေကာလတို့ကို အောက်ပါအတိုင်း တင်ပြထားပါသည် -

| စဥ် | လမ်းအပိုင်း/ ကုမ္ပဏီ | ရင်းနှီးမြှုပ်နှံမှု ကျပ် (သန်း) | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR (ရာခိုင်နှုန်း) | အရင်းကြေ ကာလ (နှစ်) |
|---|---|---|---|---|
| ၁။ | ထောက်ကြံ့ - ပဲခူး<br>(၃၂ မိုင်၊ ၆ ဖာလုံ)<br>(မက်စ် မြန်မာ ဆောက် လုပ်ရေး ကုမ္ပဏီ လီမိတက်) | ၁၁၃၁၈.၅၁ | ၁.၃၂ | ၂၆ |
| ၂။ | ပဲခူး - ညောင်လေးပင်<br>(၄၈ မိုင်)<br>(ရွှေသံလွင် အဝေးပြေး လမ်းမကြီး လီမိတက်) | ၁၃၅၀၂.၃၁ | ၂.၅၆ | ၂၃ |
| ၃။ | မိတ္ထီလာ - မန္တလေး<br>([illegible] မိုင်၊ [illegible] ဖာလုံ)<br>(သော်တာဝင်းဆောက် လုပ်ရေးကုမ္ပဏီလီမိတက်) | ၅၅၇၇၅.၀၀ | ၁.၀၉ | ၃၆ |

(ဆ) ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်း (၈)ပိုင်းအနက် အေးရှားဝါးလ် ကုမ္ပဏီမှ ဆောင်ရွက်သည့် လမ်းအပိုင်း (၂)ခု [ ရေတာရှည် - ပျဉ်းမနား နှင့် ပျဉ်းမနား - ရမည်းသင်း] ၏ လုပ်ငန်းအဆိုပြုလွှာများ တင်ပြခြင်းနှင့် စပ်လျဉ်း၍ ကော်မရှင်၏ (၂၂/၂၀၀၉) (၂၆-၆-၂၀၀၉) အစည်းအဝေး မှ BOT စာချုပ်တွင် လုပ်ငန်းသက်တမ်းကာလများကို တစ်ပြေးညီ ပြင်ဆင်ပြီး ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

(ဇ) ယခုလမ်းအပိုင်း (၃)ခု၏ အဆိုပြုလွှာများကို ထပ်မံတင်ပြလာခြင်း ဖြစ် ပါသည်။ ကျန်လမ်းအပိုင်း(၃)ခု၏ လုပ်ငန်းအဆိုပြုလွှာများ တင်ပြလာခြင်း မရှိသေးပါ။

(ဈ) ရန်ကုန်-မန္တလေးပြည်ထောင်စု လမ်းမကြီး ၏ လမ်းအပိုင်း(၈)ပိုင်းအားအောက်ပါ အတိုင်း တင်ပြအပ်ပါသည်။

| စဉ် | လမ်းအပိုင်း | ကုမ္ပဏီအမည် | MIC အစည်းအဝေး | မှတ်ချက် |
|---|---|---|---|---|
| (၁) | ထောက်ကြံ့-ပဲခူး လမ်းအပိုင်း | မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ယခု အစည်းအဝေး တွင် တင်ပြ ထား ပါသည်။ | |
| (၂) | ပဲခူး-ညောင်လေးပင် လမ်းအပိုင်း | ရွှေသံလွင် အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် | | |
| (၃) | ညောင်လေးပင်-ဇေယျာဝတီ လမ်းအပိုင်း | ဟိုက်စတား ကုမ္ပဏီ လီမိတက် | - | ဌာနမှ တင်ပြ လာခြင်း မရှိသေးပါ။ |
| (၄) | ဇေယျာဝတီ-ရေတာရှည် လမ်းအပိုင်း | ကမ္ဘောဇလမ်းကြောင်း ရှာဖွေရေး စက်မှု လုပ်ငန်းများ လီမိတက် | - | |
| (၅) | ရေတာရှည်-ပျဉ်းမနား လမ်းအပိုင်း | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ၂၂/၂၀၀၉ (၂၆-၆-၀၉) | ကော်မရှင် အစည်း အဝေးဆုံးဖြတ်ချက် အရ TC တင်ပြရန် ဌာနသို့ အမှာစာ များ တောင်းခံထား ပါသည်။ |
| (၆) | ပျဉ်းမနား- ရမည်းသင်း လမ်းအပိုင်း | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | | |
| (၇) | ရမည်းသင်း- မိတ္ထီလာ လမ်းအပိုင်း | ယုဇနကုမ္ပဏီ လီမိတက် | - | ဌာနမှ တင်ပြ လာခြင်း မရှိသေးပါ။ |
| (၈) | မိတ္ထီလာ-မန္တလေး လမ်းအပိုင်း | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ယခု အစည်းအဝေး တွင် တင်ပြ ထား ပါသည်။ | |

၅။ သို့ဖြစ်ပါ၍ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ထောက်ကြံ့-ပဲခူး (မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီ)၊ ပဲခူး-ညောင်လေးပင် (ရွှေသံလွင် အဝေး ပြေးလမ်းမကြီး ကုမ္ပဏီ)နှင့် မိတ္ထီလာ-မန္တလေး (သော်တာဝင်း ဆောက်လုပ် ရေး ကုမ္ပဏီ) လမ်းအပိုင်း (၃)ခု တွင် BOT စနစ်ဖြင့် ဆောင်ရွက်ပြီး လမ်းအသုံးပြုခ များ ကောက်ခံခြင်းလုပ်ငန်း အဆိုပြုလွှာ(၃)ခုကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှပြန်လည်တင်ပြခြင်း အပေါ် စီးပွားရေးဆိုင်ရာ အဓိကအချက်များကို နှိုင်းယှဉ်ဇယားဖြင့် ပူးတွဲ ဖော်ပြလျက် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ရန်ကုန်-မန္တလေးလမ်းအပိုင်း(၃)ခု၏ စီးပွားရေးဆိုင်ရာတင်ပြချက်

| စဉ် | အကြောင်းအရာ | မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် | သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
|---|---|---|---|---|
| ၁။ | လုပ်ငန်းအဆိုပြုသူအမည် | ဦးဖိုးဇော်(ခ)ဦးဇော်ဇော် | ဦးဇော်ဝင်းထွန်း | ဦးနေဝင်းကျော် |
| ၂။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | ထောက်ကြန့်-ပဲခူး<br>ထောက်ကြန့်-ဇရပ်ကွင်းအပိုင်း<br>(မိုင်တိုင် ၁/၀ မှ ၁၄/၆ ထိ)<br>၁၃ မိုင် ၆ ဖာလုံ<br>ဇရပ်ကွင်း-ပဲခူး အပိုင်း<br>(မိုင်တိုင် ၃၁/၀ မှ ၅၀/၀ ထိ)<br>၁၉ မိုင်<br>စုစုပေါင်း ၃၂ မိုင် ၆ ဖာလုံ | ပဲခူး-ညောင်လေးပင်<br>(မိုင်တိုင် ၅၀/၀ မှ ၉၈/၀ ထိ)<br>(၄၈)မိုင် | မိတ္ထီလာ-မန္တလေး<br>(မိုင်တိုင် ၃၃၈/၀ မှ ၄၂၂/၅ ထိ)<br>၈၄မိုင် ၅ ဖာလုံနှင့် ပုလိပ်မြို့ရှောင်လမ်<br>၃ မိုင် ၂ ဖာလုံ<br>စုစုပေါင်း ၈၇ မိုင် ၇ ဖာလုံ |
| ၃။ | လမ်းတံတားအသုံးပြုခ ကောက်ခံ မည့် ဂိတ် တည်နေရာ | အသွားခရီး - ထောက်ကြန့် ဂိတ်ဟောင်း<br>အပြန်ခရီး - ပဲခူးကောလိပ်အနီး | မိုင်(၆၇/၁)ရှိ ရွာသစ်ကျေးရွာဂိတ်<br>(အသွား/ အပြန်ခရီး အတွက်)<br>မိုင်(၆၁/၇)ရှိဘုရားကြီးကျေးရွာဂိတ်<br>(ပဲခူး- ဘုရားကြီးအပိုင်း(၁၀/၄)မိုင် အတွက်ကောက်ခံခြင်းဖြစ်ပါသည်။) | အသွားခရီး (မန္တလေး မှ မိတ္ထီလာ)<br>မိုင် ၄၁၃/၄ မြို့သာကုန်းဂိတ်<br>မိုင် ၃၈၉/၇ လက်ညှိုးထိုးရွာဂိတ်<br>အပြန်ခရီး ( မိတ္ထီလာ မှ မန္တလေး)<br>မိုင် ၃၄၉/၄ သပြေဝဂိတ်<br>မိုင် ၃၈၉/၇ လက်ညှိုးထိုးရွာဂိတ် |

လို့ဝှက်

| စဉ် | အကြောင်းအရာ | မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် | သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
|---|---|---|---|---|
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၁၃၁၈.၅၁ သန်း<br>(US$ ၆.၂၅ သန်းအပါအဝင်)<br>(US$ ၆.၂၅ သန်း တန်ဖိုး ရှိ စက်ယန္တရား နှင့် လုပ်ငန်းသုံး ယာဉ်များ ပြည်ပ မှ တင်သွင်း မည် ဖြစ်ရာ Road Finisher, off Road Tipper and Primemover များကို ကြိုတင် ခွင့်ပြုချက် ရယူ တင်သွင်း ထား ကြောင်း တင်ပြထားပါသည်။) | ကျပ် ၁၃၅၀၂.၃၁ သန်း<br>(ပြည်တွင်း ချေးငွေ ကျပ် (၂၀၀၀) သန်းကို မြန်မာ့ စီးပွားရေး ဘဏ်မှ တစ်နှစ် လျှင် (၁၇%) အတိုးဖြင့် ရယူမည်ဖြစ်ပါသည်။) | ကျပ် ၅၅၇၇၅.၀၀ သန်း<br>(လမ်း ဖောက်လုပ် ရန် စက်၊ ယာ<br>ယန္တရား များကို ဝယ်ယူ ခြင်း မပြု<br>ငှားရမ်း အသုံးပြုမည် ဖြစ်ပါသည်။) |
| ၅။ | ဝင်ငွေ ( တည်ဆောက်ရေး ကာလပြီးလုပ်ငန်းသက်တမ်း (၇)နှစ် မြောက်ဝင်ငွေအား ကောက်နုတ် တင်ပြ ထား ခြင်း ဖြစ်ပါ သည်။) | ကျပ် ၁၃၀၀.၆၇ သန်း | ကျပ် ၃၁၉၉.၇၁ သန်း | ကျပ် ၄၂၃၀.၅၄ သန်း |
| ၆။ | အသားတင်အမြတ်<br>(၇ နှစ်မြောက်) | ကျပ် ၃၇၈.၇၆ သန်း | ကျပ် ၆၈၉.၆၄ သန်း | ကျပ် ၂၁၅၁.၃၁ သန်း |

လို/၃က်

| စဉ် | အကြောင်းအရာ | မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် | သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
|---|---|---|---|---|
| ၇။ | အရင်းကြေကာလ | (၂၆)နှစ် | (၂၃)နှစ် | (၃၆)နှစ် |
| ၈။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | ၁.၃၂ % | ၂.၅၆ % | ၁.၀၉% |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | | | |
| | - ဝင်ငွေခွန် | ကျပ် ၁၆၂.၃၃ သန်း | ကျပ် ၂၉၅.၅၆ သန်း | ကျပ် ၉၂၁.၉၉ သန်း |
| | - လမ်းတံတား ဖြတ်သန်းခ ရငွေ | ကျပ် ၆၅.၀၃ သန်း | ကျပ် ၁၅၉.၉၉ သန်း | ကျပ် ၂၁၁.၅၃ သန်း |
| ၁၀။ | လုပ်သားအင်အား | ပြည်တွင်း - ၁၂၁ ဦး<br>ပြည်ပ - ၄ ဦး<br>၁၂၅ ဦး | ပြည်တွင်း - ၄၈၉ ဦး<br>ပြည်ပ - ၃ ဦး<br>၄၉၂ ဦး | ပြည်တွင်း - ၃၀၀ ဦး<br>ပြည်ပ - ၉ ဦး<br>၃၀၉ ဦး |
| ၁၁။ | တည်ဆောက်မှုကာလ | (၃)နှစ်<br>(၁-၄-၂၀၀၈ မှ ၃၁-၃-၂၀၁၁) | (၃)နှစ်<br>(၁-၁၀-၂၀၀၂ မှ ၃၀-၉-၂၀၀၅) | (၃)နှစ်<br>(၁-၁၀-၂၀၀၂ မှ ၃၀-၉-၂၀၀၅) |
| | | (ပေ ၁၀၀ နှင့် အထက် တံတားများ တည်ဆောက်ချိန်ကို ၅နှစ် သတ်မှတ်ပေးထားပါသည်။ | | |

လျှို့ဝှက်

| စဉ် | အကြောင်းအရာ | မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် | သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
|---|---|---|---|---|
| ၁၂။ | လုပ်ငန်းသက်တမ်း | တည်ဆောက်ရေးကာလ (၃) နှစ်အပါအဝင် (၄၃) နှစ်ဖြစ်ပါသည်။ | | |
| ၁၃။ | ဘဏ်အာမခံကြေးငွေ | စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း (၃၀) အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ ၁% နှင့် ညီမျှသော ငွေကို ဘ<br>အာမခံကြေး အဖြစ် ထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင် ထုတ်ပေးသည့် နေ့မှ လုပ်ငန်း ပြီးဆုံးအေ<br>ဆောင်ရွက်သည်အထိ ဖြစ်ပါသည်။ ယင်းဘဏ်အာမခံငွေကို လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှ<br>ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း ကုမ္ပဏီသို့ ပြန်လည်ထုတ်ပေးရမည် ဖြစ်ပါသည်။ ကုမ္ပဏီသည် လုပ်<br>စတင်ရန် အကြောင်းကြားစာရပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်သော်လည်းကော<br>သတ်မှတ်ကာလအတွင်း လုပ်ငန်းပြီးစီးအောင် မဆောင်ရွက်နိုင်လျှင်သော်လည်းကောင်း ယင်းအာမခံငွေကို ပြည<br>ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူမည်ဖြစ်ပါသည်။ | | |
| ၁၄။ | အခြားတင်ပြချက် | - ထောက်ကြန့် - ပဲခူး လမ်းအပိုင်း၏ တည်ဆောက်မှုကို (၁-၄-၂၀၀၈) မှ စတင်သဖြင့် ယခု တည်ဆောက်ဆဲ ကာလ ဖြစ်ပါသည်။<br>- လုပ်ငန်း၏ဝင်ငွေတွင် လမ်း အသုံးပြုခ ကောက်ခံ ရငွေသာ ရှိပါသည်။ | - လုပ်ငန်း ၏ ဝင်ငွေ တွင် ပဲခူး - ညောင်လေးပင်လမ်းအတွက် လမ်းအသုံးပြုခ၊ ပဲခူး - ဘုရားကြီးအပိုင်း (၁၀/၄) မိုင်အတွက် လမ်းအသုံးပြုခ နှင့် တံတား အသုံးပြုခ ကောက်ခံရ ငွေ များပါဝင်ပါသည်။ | - လုပ်ငန်း၏ ဝင်ငွေတွင်လမ်း အ<br>ပြုခ နှင့်တံတားအသုံးပြုခကော<br>ခံရငွေများပါဝင်ပါသည်။<br>- လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုမှာ<br>သန်းပေါင်း (၅၅၇၇၅)ဖြစ်ပါသ<br>ရှေ့ပိုင်း ကာလ များတွင်<br>ပေါ်ပြီး နောက်ပိုင်း ကာလ<br>တွင် တစ်နှစ် အမြတ် ကျပ်<br>(၂၀၀၀) ကျော်ရရှိသဖြင့် (၃၆)<br>မှ အရင်းကြေရခြင်း ဖြစ်ကြေ<br>တင်ပြထားပါသည်။ |

လျှို့ဝှက်

3-Roads

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်



## မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

မှ

## ရန်ကုန်–ပဲခူး–မိတ္ထီလာ–မန္တလေးပြည်ထောင်စုလမ်းမကြီး ထောက်ကြန့်–ပဲခူးလမ်းအပိုင်းကို အဆင့်မြင့်တိုးမြှင့်ဖောက်လုပ်ခြင်းလုပ်ငန်း

ရက်စွဲ၊ ၂၀၀၉ခုနှစ်၊ လ (      )ရက်

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၉(ကုမ္ပဏီ)(စီ ၆၀၂၅)
ရက် စွဲ၊ ၂၀၀၉ခုနှစ် ဩဂုတ်လ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ ထောက်ကြန့် - ပဲခူး လမ်းပိုင်းအား BOT စနစ်ဖြင့် ဆောင်ရွက်ပြီး လမ်းအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း အဆိုပြုလွှာ ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၉ခုနှစ် ဇူလိုင်လ (၂၄)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(က) / မ-၉၆၄/၉၇၁ /၁၀၀၀/ ၂၀၀၉ (၁၈၈၈၅-က)

၁။ ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီးတွင် မက်စ်မြန်မာဆောက်လုပ်ရေးကုမ္ပဏီလီမိတက် မှ ဆောင်ရွက်နေသော ထောက်ကြန့် - ပဲခူး လမ်းပိုင်း၏ အဆိုပြုလွှာများနှင့် ငွေကြေးလည်ပတ်မှု အခြေအနေအားတင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေးအမှတ်စဉ် (၂၅/၂၀၀၉) မှ B.O.T စနစ်ဖြင့် လမ်းအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုလွှာများကို အချက်အလက်များ ပြည့်စုံစွာဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှုခံယူရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည် ။

၂။ သို့ဖြစ်ပါ၍ အဆိုပါလမ်းပိုင်း၏ အဆိုပြုလွှာအား ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေး သို့ တင်ပြအတည်ပြုချက် ရယူပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြုစုထားသော အဆိုပြုလွှာ (၂၇) စုံစီနှင့် ၊ Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy (၁) ချပ်တို့အား ပူးတွဲပေးပို့ တင်ပြအစီရင်ခံအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးချုပ်မြင့်သိန်း၊ ဒုတိယဝန်ကြီး)

လျှို့ဝှက်

၃

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၉(ကုမ္ပဏီ)(စီ ၄၀၉၆)
ရက် စွဲ၊ ၂၀၀၉ခုနှစ် ဇွန်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီးတွင် မက်စ်မြန်မာဆောက်လုပ်ရေး ကုမ္ပဏီမှ ဆောင်ရွက်နေသော လမ်းပိုင်းအား B.O.T စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာတင်ပြခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၉ခုနှစ် ဧပြီလ (၂)ရက် နေ့စွဲပါ စာအမှတ်၊ရက-၁/မ-၇၀၆/၂၀၀၉(၃၈၄၂)

(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀၀၉ခုနှစ် မေလ (၂၇)ရက် နေ့စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၉ (ကုမ္ပဏီ) (စီ ၃၃၃၅)

၁။ ရန်ကုန် - မန္တလေးပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်း(၈)ပိုင်းအား B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီ(၇)ခု၏ အဆိုပြုလွှာများနှင့် ငွေကြေးလည်ပတ်မှု အခြေအနေအား တင်ပြခဲ့ခြင်းအပေါ် လိုအပ်ချက်များ ပြင်ဆင်ဖြည့်စွက်ပြီး ပြန်လည်တင်ပြပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၀၉) မှ ဆုံးဖြတ်ချက်အား ရည်ညွှန်းချက် (၁)ပါစာနှင့်အတူ ပူးတွဲပေးပို့အကြောင်းကြားလာပါသည် ။

၂။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ လိုအပ်သည်များ ပြင်ဆင်ရန် အဆိုပြုလွှာနှင့် ပဋိညာဉ်စာချုပ်ပါ အချက်များအား လမ်းပိုင်းအလိုက် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများအနက် ထောက်ကြန့် - ပဲခူး လမ်းပိုင်းအား လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်နေသော မက်စ်မြန်မာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်းပြုစုပြီး ပြင်ဆင်ဖြည့်စွက်ပေးပို့လာပါသည် ။

၃။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏လမ်းညွှန်ချက်နှင့်အညီပြုစုထားသော အဆိုပါ လမ်းပိုင်း၏ အဆိုပြုလွှာအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီး ဖြစ်ပါ၍ ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက် ရယူပေးနိုင်ပါရန် ပြင်ဆင်ဖြည့်စွက်ထားသော မက်စ်မြန်မာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာ(၂)စုံ ၊ ငွေကြေးလည်ပတ်မှုအခြေပြဇယား(၁)စောင်တို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအစီရင်ခံအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးချုပ်မြင့်သိန်း၊ ဒုတိယဝန်ကြီး)

# Max Myanmar Co., Ltd.

MAX (MYANMAR) CONSTRUCTION COMPANY LIMITED

MAX (MYANMAR) CONSTRUCTION CO., LTD.
No .........
Date .........

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၀၉ ခုနှစ်၊ ဩဂုတ်လ (၁၈) ရက်၊
စာအမှတ် ။ ။ **MAX/ MIC/ 2009(1)**

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ "မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်" **Max (Myanmar) Construction Co., Ltd.** သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင်၊ ရန်ကုန်-ပဲခူး-မိတ္ထီလာ-မန္တလေး ပြည်ထောင်စုလမ်းမကြီး (ထောက်ကြန့် - ပဲခူးအပိုင်း) ဇရပ်ကွင်း- ပဲခူးအပိုင်း မိုင်တိုင် (၃၁/၀) မှ (၅၀/၀)၊ ထောက်ကြန့်- ဇရပ်ကွင်းအပိုင်း မိုင်တိုင် (၁/၀)မှ (၁၄/၆) အထိ၊ (၃၂)မိုင် (၆)ဖာလုံ ရှည်လျားသော လမ်းမကြီးအား ကုမ္ပဏီ၏ကုန်ကျငွေဖြင့် တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ဆောင်ရွက်နိုင်ရန်ရည်ရွယ်၍ ခေတ်မီနည်းပညာ စက်ကိရိယာများဖြင့် အဆင့်တိုးမြှင့်ဖောက်လုပ်ကိုင်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကိုပေးပို့တင်ပြလျှောက်ထားခဲ့ ပါသည်။

သို့ဖြစ်ပါ၍ "မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်" **Max (Myanmar) Construction Co., Ltd.**မှ တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူချက်ဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြနိုင်ရန် အဆိုပြုချက် (၂၇) စုံကို **Adobe Acrobat Reader (PDF) File**ဖြင့် ထည့်သွင်းထားသော **CD Copy** နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**U Zaw Zaw**
**Managing Director**
**Max (Myanmar) Construction Co., Ltd.**

# Max Myanmar Co., Ltd.

MAX (MYANMAR) CONSTRUCTION COMPANY LIMITED

(MYANMAR) CONSTRUCTION CO., LTD.
No..........
Date..........

သို့

ဝန်ကြီး၊
ဆောက်လုပ်ရေးဝန်ကြီးဌာန၊
အဆောက်အဦအမှတ် (၁၁)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၀၉ ခုနှစ်၊ ဇွန်လ ( ၉ ) ရက်။

အကြောင်းအရာ။ ။ရန်ကုန်–ပဲခူး–မိတ္ထီလာ–မန္တလေး ပြည်ထောင်စုလမ်းမကြီး (ထောက်ကြန့် – ပဲခူးလမ်းအပိုင်း) ပြုပြင်ဖောက်လုပ်၊ လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိရေးအတွက် အဆိုပြုလွှာတင်သွင်းခြင်း။

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပါတ်သက်၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ "မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်" **Max (Myanmar) Construction Co., Ltd.** သည် လမ်းမကြီးများဥပဒေနှင့်အညီ ရန်ကုန်–ပဲခူး–မိတ္ထီလာ–မန္တလေး ပြည်ထောင်စုလမ်းမကြီး၊ (ထောက်ကြန့်–ပဲခူးလမ်းအပိုင်း) ဇရပ်ကွင်း–ပဲခူးအပိုင်းမိုင်တိုင် (၃၁/၀) မှ (၅၀/၀)၊ ထောက်ကြန့်–ဇရပ်ကွင်းအပိုင်း မိုင်တိုင် (၁/၀)မှ (၁၄/၆)အထိ) (၃၂)မိုင် (၆)ဖာလုံကို အဆင့်တိုးမြင့် ဖောက်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ရရှိရေးအတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြရန် အဆိုပြုချက် (မူကြမ်း)ကို တင်ပြခဲ့ပါ သည်။

လေးစားစွာဖြင့်

**U Zaw Zaw**
**Managing Director**
**Max (Myanmar) Construction Co., Ltd.**

မိတ္တူကို
– ဒုတိယဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊
– ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊

# Max Myanmar Co., Ltd.

MAX (MYANMAR) CONSTRUCTION COMPANY LIMITED

MAX (MYANMAR) CONSTRUCTION CO., LTD.
No.........
Date........

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ်(၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၀၉ ခုနှစ်၊ ဇွန်လ ( ၉ ) ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

၁။ "မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်" **Max (Myanmar) Construction Co., Ltd.** သည် လမ်းမကြီးများဥပဒေနှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင်၊ ရန်ကုန်-ပဲခူး-မိတ္ထီလာ-မန္တလေး ပြည်ထောင်စုလမ်းမကြီး (ထောက်ကြန့်-ပဲခူးအပိုင်း) ဇရပ်ကွင်း-ပဲခူးအပိုင်း မိုင်တိုင် (၃၁/၀)မှ (၅၀/၀)၊ ထောက်ကြန့်-ဇရပ်ကွင်းအပိုင်း မိုင်တိုင်(၁/၀)မှ (၁၄/၆) အထိ (၃၂) မိုင် (၆) ဖာလုံကို ခေတ်မီစက်ယန္တရားများ၊ ခေတ်မီနည်းပညာများအသုံးပြု၍ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ ကုမ္ပဏီ၏ ကုန်ကျစရိတ်ဖြင့် အဆင့် တိုးမြှင့်ဖောက်လုပ်မည်ဖြစ်ပါသည်။

၂။ အဆိုပါဖောက်လုပ်ပြီးစီးသော လမ်းတွင်ဖြတ်သန်းသွားသော မော်တော်ယာဉ်များ အား လမ်းအသုံးပြုခ ကောက်ခံသည့်လုပ်ငန်းကို ကနဦးနှစ်(၄၀)နှင့် တစ်ကြိမ်လျှင် (၅)နှစ်စီ သုံးကြိမ် သက်တမ်းတိုးမြှင့်လုပ်ကိုင်ခွင့် ရရှိရန်အတွက်မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်လျှောက်ထားအပ် ပါသည်။

လေးစားစွာဖြင့်

**U Zaw Zaw**
**Managing Director**
**Max (Myanmar) Construction Co., Ltd.**

Max Myanmar Co., Ltd.

MAX (MYANMAR) CONSTRUCTION COMPANY LIMITED

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၀၉ ခုနှစ်၊ ဇွန်လ ( ၉ ) ရက်၊

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများ၊ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်ပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ "မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်" **Max (Myanmar) Construction Co., Ltd.** သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင်၊ ရန်ကုန်–ပဲခူး–မိတ္ထီလာ–မန္တလေး ပြည်ထောင်စုလမ်းမကြီး (ထောက်ကြန့် – ပဲခူးအပိုင်း) ဇရပ်ကွင်း–ပဲခူးအပိုင်း မိုင်တိုင် (၃၁/၀) မှ (၅၀/၀)၊ ထောက်ကြန့်– ဇရပ်ကွင်းအပိုင်း မိုင်တိုင် (၁/၀)မှ (၁၄/၆) အထိ၊ (၃၂)မိုင် (၆)ဖာလုံ ရှည်လျားသောလမ်းမကြီးအား ကုမ္ပဏီ၏ကုန်ကျငွေဖြင့် တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ဆောင်ရွက်နိုင်ရန်ရည်ရွယ်၍ ခေတ်မီနည်းပညာ စက်ကိရိယာများဖြင့် အဆင့်တိုးမြင့်ဖောက်လုပ်ကိုင်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံငွေ **US$ 6.251** သန်းအပါအဝင် စုစုပေါင်းကျပ် (၁၁,၃၁၈.၅၁)သန်းကို ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖေါ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ လမ်းတည်ဆောက်ပြုပြင်ဖောက်လုပ်ပြီး ကနဦးနှစ်ပေါင်း(၄၀)နှင့် တစ်ကြိမ်လျှင်(၅) နှစ်စီနှင့် သုံးကြိမ်အထိသက်တမ်း တိုးမြှင့်ကာလအတွင်း လမ်း၊ တံတားအသုံးပြုခများကို ကောက်ခံမည်ဖြစ်ပြီး လမ်း၊ တံတားအသုံးပြုခ ကောက်ခံရရှိသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် လုပ်ငန်းများတွင်ပြန်လည်ပြီး ရင်းနှီးမြှုပ်နှံသွားရန်ရည်ရွယ်ပါ သည်။

No.1, Ywama Curve, Ba Yint Naung Road, Block(2), Hlaing Township, Yangon, Myanmar.

၄။ သို့ပါ၍ နိုင်ငံတော်၏ အဓိကရည်မှန်းချက်တစ်ရပ်ဖြစ်သော လမ်းပန်းဆက်သွယ်မှု လုံခြုံချောမွေ့စေရေး၊ ကုန်စည်စီးဆင်းမှု လျှင်မြန်သွက်လက်စေရေး အထောက်အကူပြုစေရန် အတွက်လည်းကောင်း နိုင်ငံတော်အတွက်ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းရရှိစေရန် အတွက်လည်း ကောင်း၊ နိုင်ငံသားများစီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ဒေသဖွံ့ဖြိုးရေးကို တစ်ဘက်တစ်လမ်းမှအထောက်အကူပြုလာနိုင်စေရန်အတွက်လည်းကောင်း၊ လမ်းတံတားနည်းပညာ ရပ်များတိုးပွားရရှိစေရန် အတွက်လည်းကောင်း၊ ကျွန်တော်တို့ မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်လျှောက်ထားခြင်းကို လက်ခံစဉ်းစား ပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ (၁၂)နှင့် (၁၃)ပါ ပြဋ္ဌာန်း ထားသည့်အတိုင်း အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ခံစားခွင့်ပြုပါရန်နှင့်တည်ဆောက် ရေးကာလ ပြီးစီးချိန်မှစ၍ ပထမ(၃) နှစ်အား ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် အခွန်ဆိုင်ရာ သက်သာခွင့်များခွင့်ပြုပေးပါရန်အတွက် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါ ရန်နှင့် လမ်းတစ်လျှောက်တွင် ယာဉ်နှင့် ခရီးသွားများရပ်နားရန် စက်သုံးဆီဖြန့်ဖြူးရေးစခန်းများနှင့် ကြော်ငြာဆိုင်းဘုတ်များ စိုက်ထူခြင်းစသည့်အထောက်အကူပြု လုပ်ငန်းများကိုလည်း လုပ်ကိုင်ခွင့် ပြုပေးအပ်ပါရန်ရိုသေ လေးစားစွာဖြင့် လျှောက်ထား အပ်ပါသည်။

၅။ ထို့အပြင် ရန်ကုန်–ပဲခူး–မိတ္ထီလာ–မန္တလေး ပြည်ထောင်စုလမ်းမကြီး (ထောက်ကြန့် –ပဲခူး အပိုင်း)အား ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ပြုပြင်ဖောက်လုပ်ပြီးပါက ၄င်းလမ်းတွင်ဖြတ်သန်းသွားသော မော်တော်ယာဉ်များအား လမ်းအသုံးပြုခကို မြန်မာကျပ်ငွေဖြင့် ကောက်ခံဆောင်ရွက်မည်ဖြစ်ပါ သည်။

၆။ အထက်ပါလျှောက်ထား မေတ္တာရပ်ခံချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်း များကို ပူးတွဲ တင်ပြအပ်ပါသည်။

(က) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုရန် ကမကထပြုသူ၏ လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်၊

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(ဂ) ပဋိညာဉ်စာချုပ်(မူကြမ်း)

(ဃ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(င) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

လေးစားစွာဖြင့်

**U Zaw Zaw**
**Managing Director**
**Max (Myanmar) Construction Co., Ltd.**

Max Myanmar Co., Ltd.

MAX (MYANMAR) CONSTRUCTION COMPANY LIMITED

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။ ၂၀၀၉ ခုနှစ်၊ ဇွန်လ ( ၉ ) ရက်၊

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာပါကိစ္စ နှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ "မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်" သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင် ရန်ကုန်-ပဲခူး-မိတ္ထီလာ-မန္တလေး ပြည်ထောင်စုလမ်းမကြီး (ထောက်ကြန့်-ပဲခူးလမ်းအပိုင်း) ဇရပ်ကွင်း-ပဲခူးအပိုင်း မိုင်တိုင် (၃၀/၀) မှ (၅၀/၀)၊ ထောက်ကြန့်-ဇရပ်ကွင်းအပိုင်း မိုင်တိုင် (၁/၀) မှ (၁၄/၆) အထိ အရှည်(၃၂)မိုင် (၆)ဖာလုံ ရှည်လျားသောလမ်းမကြီးအား အဆင့်တိုးမြှင့် ဖောက်လုပ်တည်ဆောက်ရန် ကနဦးနှစ်(၄၀)နှင့် တစ်ကြိမ်လျှင် (၅)နှစ်စီနှင့် သုံးကြိမ်သက်တမ်းတိုးမြှင့်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ဆောင်ရွက်နိုင်ရန်အတွက် ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့်ရရှိနိုင်ရန် ပြည်ထောင်စုမြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကိုလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် ခွင့်ပြုမိန့်ရရှိရန် အတွက် အောက်ပါတို့ကို ဝန်ခံကတိ ပြုပါ သည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းကိုလည်း ဝန်ခံကတိပြုပါသည်။

(ဂ) နိုင်ငံတော်မှ လမ်းမကြီးများဥပဒေနှင့် နည်းဥပဒေများအရလမ်းတံတား တည်ဆောက် ပြုပြင်ဖောက်လုပ်ခြင်းနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

No.1, Ywama Curve, Ba Yint Naung Road, Block(2), Hlaing Township, Yangon, Myanmar.

